အကြောင်းအရာ။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Prodiso USA Company Limited တည်ထောင်၍ Manufacturing of furniture made of rubber wood for 100% exportလုပ်ငန်းအား ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ရင်းနှီးမြှုပ်နှံသူ | - Prodiso USA Company Limited<br>- Mr. Huang Xiang |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Mr. Huang Xian ၁၀၀% (အမေရိကန်နိုင်ငံ) |
| | လုပ်ငန်းအမျိုးအစား | - Manufacturing of furniture made of rubber wood for 100% export |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်-၆+၇၊ မြေတိုင်းရပ်ကွက်အမှတ်-၁၄၄ စက်မှုဇုန်၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး |
| ၃။ | မြေအသုံးပြုခွင့် ရရှိသူ | - ဒေါ်စိန်ရီ(ခ) ဆိုင်ပုံ |
| | မြေအမျိုးအစား | - စက်မှုဇုန်မြေ |
| | မြေအကျယ်အဝန်း | - စုစုပေါင်းမြေဧရိယာ ၃.၉၃၁ ဧကအနက်မှ မြေ ၂.၃၄ ဧက |
| | အဆောက်အဦအကျယ်အဝန်း | - ၂၃၆.၄၇' x ၇၃၆.၂၁' ရှိ စက်ရုံ (၃) လုံး |
| ၄။ | နှစ်စဉ် မြေငှားရမ်းခ | - အမေရိကန်ဒေါ်လာ ၁၇,၀၄၆ (တစ်နှစ်တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၁.၈ နှုန်း) |
| ၅။ | မြေငှားရမ်းအသုံးပြုခွင့် သက်တမ်း | - ကနဦး ၅၀ နှစ် |
| | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း | - ကနဦး ၅၀ နှစ် |
| | တည်ဆောက်မှုကာလ/ ပြင်ဆင်မှုကာလ | - ၂ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း ထည့်ဝင်သည့်အမျိုးအစား | - အမေရိကန်ဒေါ်လာ ၅.၁၁၀ သန်း |

| | ပြည်ပ (US$သန်း) |
|---|---|
| (က) ငွေသား | ၁.၆၀၇ |
| (ခ) စက်ပစ္စည်းကိရိယာ တန်ဖိုး | ၁.၂၆၅ |
| (ဂ) ရုံးလုပ်ငန်းသုံးပစ္စည်း တန်ဖိုး | ၀.၁၃၈ |
| (ဃ) အဆောက်အဦ တန်ဖိုး | ၂.၀၀၀ |
| စုစုပေါင်း | ၅.၀၁၀ |

| | | |
|---|---|---|
| ၇။ | ဝန်ထမ်းအင်အား | - ၃၂၀ ဦး |
| | ပြည်တွင်း | - ၃၀၀ ဦး (ပြည်တွင်းဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာ ကျပ် ၁၈၀,၀၀၀ ဖြစ်ပြီးအမြင့်ဆုံးလစာမှာ ကျပ် ၈၀၀,၀၀၀ ဖြစ်ပါသည်။) |
| | ပြည်ပ | - ၂၀ ဦး(ပြည်ပဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာ US$ ၁,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၁,၂၀၀ ဖြစ်ပါသည်။) |
| ၈။ | ရောင်းချမည့်စနစ် | - ပြည်ပ ၁၀၀ % |
| | ထုတ်လုပ်မှု(ပုံမှန်နှစ်) | |

| စဉ် | ပစ္စည်းအမျိုးအစား | အရေအတွက် (Pcs) | ရောင်းချမည့်ဈေးနှုန်း (US$/ Pcs) |
|---|---|---|---|
| (က) | Kitchen Furniture<br>Kitchen Cabinet | ၂၅၀,၀၀၀ | ၆.၀၀ |
| (ခ) | Living Room Furniture<br>Living Bench & TV Unit | ၇,၀၀၀ | ၂၅.၀၀ |
| (ဂ) | Dining Room Furniture<br>Dining Room Table & Chair | ၇,၀၀၀ | ၇.၅၀ |

| | | |
|---|---|---|
| ၉။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၁,၁၅၂,၀၀၀ kWh |
| ၁၀။ | အခြားတင်ပြချက် | - မြေပိုင်ရှင် ဒေါ်စိန်ရီ(ခ) ဆိုင်ပုံနှင့် Prodiso USA Company Limited တို့ကြား ချုပ်ဆိုထားသည့် မြေငှားရမ်းစာချုပ် (မူကြမ်း)၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ အရောင်းအဝယ် မှတ်ပုံတင်စာချုပ် ချုပ်ဆိုရန်အတွက် မြေအသုံးပြုခွင့် ထောက်ခံချက်နှင့် ဒေါ်သင်းသင်းချိုမှ ဒေါ်စိန်ရီ(ခ) ဆိုင်ပုံ အား အရောင်းအဝယ်စာချုပ် အမည်ပေါက် လွှဲပြောင်းခြင်း မှတ်တမ်းတို့အား ပူးတွဲ တင်ပြထားပါသည်။<br>- ကုန်ကြမ်းရရှိရန် MOS Lumber Products Co.,Ltd ၊ Ya Ma Nya Aung Naing Thu Co.,Ltd၊ Aung Oo Wood Industry Co.,Ltd တို့နှင့် ချိတ်ဆက်ရယူမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - ငွေကြေးအထောက်အထားအဖြစ် ဖြင့် အမေရိကန်နိုင်ငံ Bank of Ameria တွင် Mr. Huang Xiang အမည် ၁၁-၉-၂၀၁၉ ရက်စွဲဖြင့် US$ ၁,၅၀၅,၈၃၀.၉၅ ရှိကြောင်း တင်ပြထားပါသည်။<br>- အဆိုပြုချက်နှင့်အတူ Passport (မိတ္တူ) တို့အား တင်ပြထားပါသည်။ |
| ၁၁။ | စိစစ်တင်ပြချက် | -အဆိုပြုလုပ်ငန်းသည် ISIC-1621 တွင် အကျုံးဝင်ပါသည်။<br>-ရင်းနှီးမြှုပ်နှံမှု ဇုန်(၃)တွင် ပါဝင်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ်(၁၃/၂၀၁၇) အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု စာရင်းတွင် ပါဝင်ပါသည်။<br>- အဆိုပြုချက်နှင့်အတူ မီးဘေးကာကွယ်ရေး အစီအစဉ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေးစီမံချက်၊ ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်၊ ဝန်ထမ်းများ၏ ကျန်းမာရေး စောင့်ရှောက်မှုအစီအစဉ်တို့အား တင်ပြထားပါသည်။<br>- လုပ်ငန်းအတွက်လိုအပ်သော စက်ပစ္စည်းများနှင့် ကုန်ကြမ်းများအား ပြည်ပမှ တင်သွင်းမည် ဖြစ်ပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၂/ ခ-၀၆၇/ ၂၀၂၀( ၁၄၆ )
ရက်စွဲ၊ ၂၀၂၀ ပြည့်နှစ် ဇွန်လ ၂၃ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Prodiso USA Company Limited မှ Manufacturing of fumiture made of rubber wood for 100% exportလုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ

၁။ အမေရိကန်နိုင်ငံ Prodiso USA Company Limited မှ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ်- ၆+၇၊ မြေတိုင်းရပ်ကွက်အမှတ်-၁၄၄၊ စက်မှုဇုန်၊ ဒဂုံမြို့သစ် (တောင်ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ စုစုပေါင်းမြေဧရိယာ ၃.၉၃၁ ဧကအနက်မှ ၂.၃၄ ဧကအား ငှားရမ်း၍ Manufacturing of furniture made of rubber wood for 100% export လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက် ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက်တင်ပြလာပါသည်။

၂။ မြေအထောက်အထားအဖြစ် မြေပိုင်ရှင် ဒေါ်စိန်ရီ(ခ)ဆိုင်ပုံနှင့် Prodiso USA Company Limited တို့ကြား ချုပ်ဆိုထားသည့် မြေငှားရမ်းစာချုပ်(မူကြမ်း)၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနမှ အရောင်းအဝယ် မှတ်ပုံတင်စာချုပ် ချုပ်ဆိုရန်အတွက် မြေအသုံးပြုခွင့် ထောက်ခံချက်နှင့် ဒေါ်သင်းသင်းချိုမှ ဒေါ်စိန်ရီ(ခ) ဆိုင်ပုံအား အရောင်းအဝယ်စာချုပ် အမည်ပေါက် လွှဲပြောင်းခြင်းမှတ်တမ်းတို့အား ပူးတွဲ တင်ပြထားပါသည်။

၃။ လုပ်ငန်းစီမံကိန်းကာလမှာ ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့်မည် ဖြစ်ကြောင်းတင်ပြထားပါသည်။

၄။ လုပ်ငန်း၏စုစုပေါင်းမတည်ငွေရင်းမှာအမေရိကန်ဒေါ်လာ ၅.၀၁၀ သန်းဖြစ်ပြီး မတည်ငွေရင်း ထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | ပြည်ပ (US$သန်း) |
|---|---|---|
| (က) | ငွေသား | ၁.၆၀၇ |
| (ခ) | စက်ပစ္စည်းကိရိယာတန်ဖိုး | ၁.၂၆၅ |
| (ဂ) | ရုံးလုပ်ငန်းသုံးပစ္စည်းတန်ဖိုး | ၀.၁၃၈ |
| (ဃ) | အဆောက်အဦတန်ဖိုး | ၂.၀၀၀ |
| | စုစုပေါင်း | ၅.၀၁၀ |

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း (၃၀၀) ဦး ၊ ပြည်ပဝန်ထမ်း (၂၀)ဦး စုစုပေါင်း (၃၂၀)ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာကျပ် ၁၈၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၈၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁,၂၀၀ ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိမည့် ကုန်ပစ္စည်းများအား ပြည်ပသို့ ၁၀၀% ရောင်းချမည်ဖြစ်ပြီး ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်း မှာအောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | ပစ္စည်းအမျိုးအစား | အရေအတွက် (Pcs) | ရောင်းချမည့်ဈေးနှုန်း (US$/ Pcs) |
|---|---|---|---|
| (က) | Kitchen Cabinet | ၂၅၀,၀၀၀ | ၉.၀၀ |
| ( ခ) | Living Bench & TV unit | ၇,၀၀၀ | ၂၅.၀၀ |
| ( ဂ) | Dining Room Table & Chair | ၇,၀၀၀ | ၇.၅၀ |

၇။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ သက်ဆိုင်ရာဝန်ကြီးဌာနများမှ အောက်ပါအတိုင်း သဘောထား ပြန်ကြားထားပါသည်-

(က) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာနမှ** အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း(Environmental Impact Assessment-EIA) ကိုပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစုဆောင်ရွက် ရန်နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ကိုရေးဆွဲတင်ပြရမည်ဖြစ်ကြောင်း ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ(က)**

၈။ ငွေရေးကြေးရေးအထောက်အထားအဖြစ် အမေရိကန်နိုင်ငံ Bank of America တွင် Mr. Huang Xiang အမည်ဖြင့် ၁၁-၉-၂၀၁၉ ရက်စွဲဖြင့် US$ ၁,၅၀၅,၈၃၀.၉၅ ရှိကြောင်း ဘဏ် အထောက်အထား တင်ပြထားပါသည်။

၉။ ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ်နှင့် CSR အစီအစဉ် တို့ကိုတင်ပြထားပါသည်။

၁၀။ Prodiso USA Company Limited၏ ကုမ္ပဏီမှတ်ပုံတင် မိတ္တူနှင့် နိုင်ငံကူးမှတ်ပုံတင်တို့အား ပူးတွဲ တင်ပြထားပါသည်။

၁၁။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၂၀ ပြည့်နှစ် မတ်လ ၃၀ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၁၂/၂၀၂၀ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

စိစစ်တင်ပြချက်

၁၂။ အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ပြီး ISIC Code-1621 တွင် အကျုံးဝင်ပါသည်။

(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် နေရာသည် ဇုန်(၃)တွင် ပါဝင်ပါသည်။

(ဂ) ကုန်ကြမ်းရရှိရန် MOS Lumber Products Co.,Ltd ၊ Ya Ma Nya Aung Naing Thu Co.,Ltd၊ Aung Oo Wood Industry Co.,Ltd တို့နှင့် ချိတ်ဆက်ရယူမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

(ဃ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အားဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(င) လုပ်ငန်းအတွက် လိုအပ်မည့် စက်ပစ္စည်းများနှင့် ကုန်ကြမ်းများအား ပြင်ပမှ တင်သွင်းမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

ဆုံးဖြတ်ရန်အချက်

၁၃။ ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Prodiso USA Company Limited မှ Manufacturing of furniture made of rubber wood for 100% exportလုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(သန့်စင်လွင်၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/ မျှောစာတွဲ

ရင်းနှီးမြှုပ်နှံမှုဥာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁ (၃၆/၂၀၂၀ )
ရက်စွဲ၊ ၂၀၂၀ ပြည့်နှစ်၊ ဇွန်လ ၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Prodiso USA Company Limited မှ Manufacturing of Furniture Made of Rubber Wood for 100% Export လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀-၅-၂၀၂၀ ရက်စွဲပါစာအမှတ်၊ မရက -၂/ ခ- ၀၆၇/ ၂၀၂၀(၁၂၀)

(၂) ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး၏ (၁၀-၁-၂၀၂၀) ရက်စွဲပါစာအမှတ်၊ ရက-၁/၃/၄ (အီးအိုင်အေ)(၃၆/၂၀၂၀)

၁။ အမေရိကန်နိုင်ငံ Prodiso USA Company Limited မှ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ်- ၆+၇၊ မြေတိုင်းရပ်ကွက်အမှတ်- ၁၄၄၊ စက်မှုဇုန်၊ ဒဂုံမြို့သစ်(တောင်ပိုင်း) မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ စုစုပေါင်းမြေဧရိယာ ၃.၉၃၁ ဧကအနက်မှ ၂.၃၄ ဧက(စတုရန်းမီတာ)အား ငှားရမ်း၍ Manufacturing of furniture made of rubber wood for 100% export လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအားစိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ရင်းနှီးမြှုပ်နှံရန် ပေးပို့လာသောအဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀) နှစ်ဖြစ်ပြီး၊ တည်ဆောက် ပြင်ဆင်ရေးကာလမှာ (၂) နှစ် ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအား မြေ (၅၆,၁၂၅.၉၀ စတုရန်းမီတာ)တွင် အဆောက်အဦ (၁) လုံးတည်ဆောက်ကာလုပ်ငန်း ဆောင်ရွက်လျက်ရှိပြီး(၂၃၄.၄၇ပေx၇၃၆.၂၁ပေ)ရှိ အဆောက်အဦ (၂) လုံး ထပ်မံတည်ဆောက်ကာ လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) လုပ်ငန်းအတွက် လိုအပ်သောကုန်ကြမ်းအား ပြည်တွင်းရှိ Rubber Solid Wood ထုတ်လုပ်သော စက်ရုံများမှ ချိတ်ဆက်ဝယ်ယူ အသုံးပြုမည်ဖြစ်ပြီး ထုတ်လုပ်မှုအနေဖြင့် ပထမနှစ်တွင် Kichen Furture (၂၅၀,၀၀၀)၊ Living Room Furniture (၇,၀၀၀) နှင့် Dining Room Furniture (၇,၀၀၀) ထုတ်လုပ်မည်ဖြစ်ပြီး (၁၀) အတွင်း Kichen Furture (၂၆၅,၀၀၀)၊ Living Room Furniture (၉,၅၀၀) နှင့် Dining Room Furniture (၉,၅၀၀)ထိ တိုးမြှင့်ထုတ်လုပ်ကာ ပြည်ပသို့ ရာခိုင်နှုန်းပြည့် တင်ပို့ရောင်းချသွားမည် ဖြစ်ကြောင်း၊

(ဃ) အဆိုပြုလုပ်ငန်းအတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းပြုလုပ်ပြီး စီမံခန့်ခွဲမှုအစီအစဉ်ရေးဆွဲဆောင်ရွက်ရန်သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ရည်ညွှန်း (၂) ပါစာဖြင့် ပြန်ကြားခဲ့ပြီးဖြစ်သော်လည်း ရင်းနှီးမြှုပ်နှံမှု ပမာဏထပ်မံ တိုးမြှင့်သည့်အတွက် MIC သို့ တင်ပြခြင်း ဖြစ်ကြောင်း၊

(င) အဆိုပြုလုပ်ငန်းမှ တစ်ရက်လျှင် ရေဂါလံ (၃) ထောင်ခန့်အသုံးပြုကာ လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်း ထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဆ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကိုလူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဇ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Prodiso USA Company Limited မှ Manufacturing of furniture made of rubber wood for 100% export လုပ်ငန်းဆောင်ရွက်ရန်အတွက် မြေပြုပြင်ခြင်းနှင့် တည်ဆောက်ရေးလုပ်ငန်းများ ဆောင်ရွက်ရာတွင် လုပ်ငန်းခွင်မှထွက်ရှိလာမည့် ဖုန်မှုန့်များ၊ တုန်ခါမှုများနှင့် အခိုးအငွေ့များကြောင့် အနီးပတ်ဝန်းကျင်ရှိ လေထု၊ မြေထုနှင့် ရေထုညစ်ညမ်းမှုဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) တည်ဆောက်လုပ်ငန်းသုံး ယာဉ်ယန္တယားများနှင့် စက်ပစ္စည်းများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထုနှင့် လေထုညစ်ညမ်းခြင်း၊

(ဂ) လုပ်ငန်းလည်ပတ်ရာတွင် လိုအပ်သည့်ရေအား စနစ်တကျ ထုတ်ယူသုံးစွဲမှုမရှိခြင်းကြောင့် မြေအောက်ရေအရည်အသွေးနှင့် မျက်နှာပြင် နိမ့်ကျခြင်း၊

(ဃ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(င) လုပ်ငန်းလည်ပတ်ဆောင်ရွက်ချိန်တွင် ပရိဘောဂပစ္စည်းများထုတ်လုပ်ရန်အတွက်သစ်များဖြတ်တောက်ခြင်း၊ ပွတ်သွင်းခြင်းနှင့် စက်ပစ္စည်းကိရိယာများမှ ထွက်ရှိလာမည့် အခိုး၊ အငွေ့၊ အနံ့အသက်များ၊ ဆေးမှုတ်ခြင်းလုပ်ငန်းများမှ ထွက်ရှိလာမည့် အနံ့အသက်များ၊ အမှုန်အမွှားများကြောင့် လေထုညစ်ညမ်းခြင်း၊ လုပ်ငန်းခွင်လုပ်သားများတွင် မျက်စေ့နှင့် အသက်

ရှူလမ်းကြောင်းဆိုင်ရာ ရောဂါများဖြစ်ပွားစေနိုင်ခြင်း၊ စက်ရုံမှ ထွက်ရှိလာမည့် ဆူညံသံများကြောင့် ပတ်ဝန်းကျင်ရှိ ပြည်သူလူထုကို အနှောင့်အယှက်ဖြစ်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Prodiso USA Company Limited မှ Manufacturing of furniture made of rubber wood for 100% export လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR)အတွက် အသားတင်အမြတ်ငွေ၏ (၂%) ကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီး ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ရည်ညွှန်း (၂) ပါစာဖြင့် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)အားဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားခဲ့ပြီးဖြစ်သဖြင့်ထပ်မံတိုးချဲ့မည့် လုပ်ငန်းများပါ ထည့်သွင်း၍ ညွှန်ကြားချက်နှင့်အညီ ပြုစု ဆောင်ရွက်ရန်၊

(ဂ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

(signature) ၉/၁/၂၀၂၀

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန

တိုင်းဒေသကြီးညွှန်ကြားရေးမှူးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ရန်ကုန်တိုင်းဒေသကြီး
ရန်ကုန်မြို့

မိုင်တိုင်အမှတ် (၁၃ / ၀)၊ (၁၄၀) မှတ်တိုင်အနီး၊ အမှတ် (၂) လမ်းမကြီး၊ ရွာသာကြီး၊ ဒဂုံမြို့သစ်(တောင်ပိုင်း) မြို့နယ်
ဖုန်း - ၀၁ - ၃၅၈၈၃၄၅၆၊ ၀၉-၄၀၁၄၄၂၁၁၈၊ ၀၉-၇၇၅၆၅၂၆၄၃၊ အီးမေးလ် - ygnecd.moecaf@gmail.com

စာအမှတ်၊ ရကာ-၁/၃/၄(အီးအိုင်အေ)( ၃၆ /၂၀၂၀)
ရက်စွဲ၊ ၂၀၂၀ ခုနှစ်၊ ဇန်နဝါရီလ ၁၀ ရက်

သို့

အတွင်းရေးမှူး
ရန်ကုန်တိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ

အကြောင်းအရာ။ Prodiso USA Company Limited ၏ ပြည်တွင်းမှရရှိသော Rubber Solid Wood ကို အသုံးပြုပြီး ပရိဘောဂပစ္စည်းများထုတ်လုပ်၍ ပြည်ပသို့ ရာနှုန်းပြည့် တင်ပို့ရောင်းချခြင်း လုပ်ငန်းနှင့်ပတ်သက်၍ ဆောင်ရွက်ရန် လိုအပ်သည့် သဘာဝ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း အမျိုးအစားအား စိစစ်ပြန်ကြားခြင်း

ရည်ညွှန်းချက်။ ရန်ကုန်တိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ ၂၀-၁၂-၂၀၁၉ ရက်စွဲပါစာ အမှတ်၊ ရကတ/ ရနမ – ၂ / ၂၀၁၉ (၁၄၂၄)

၁။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Prodiso USA Company Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် (တောင်ပိုင်း) မြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် (၁၄၄)၊ မြေကွက်အမှတ် (၆+၇) တွင် ပြည်တွင်းမှရရှိသော Rubber Solid Wood ကို အသုံးပြုပြီး ပရိဘောဂပစ္စည်းများ ထုတ်လုပ်၍ ပြည်ပသို့ ရာနှုန်းပြည့်တင်ပို့ ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်လိုကြောင်း ရန်ကုန်တိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီထံ တင်ပြခဲ့မှုအပေါ် အဆိုပါ စီမံကိန်းလုပ်ငန်းနှင့်ပတ်သက်၍ တင်သွင်းမည့် စက်ပစ္စည်းနှင့် ကုန်ကြမ်းများသည် လုပ်ငန်းသဘာဝနှင့် ကိုက်ညီခြင်း ရှိ/ မရှိ၊ ထုတ်လုပ်မည့်ကုန်ချောနှင့် တင်သွင်းမည့် ကုန်ကြမ်းအရေအတွက် ဆီလျော်မှု ရှိ/ မရှိ၊ မည်သည့် သဘာဝ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ချက် ဆောင်ရွက်ရမည်ကို စိစစ်၍ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာသည့် စိစစ်ပြန်ကြားရန် သဘောထားမှတ်ချက်များအနက် မည်သည့် သဘာဝပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ချက် ဆောင်ရွက်ရမည်ကို စိစစ်ရာတွင် Prodiso USA Company Limited ၏ ပြည်တွင်းမှရရှိသော Rubber Solid Wood ကို အသုံးပြုပြီး ပရိဘောဂပစ္စည်းများ ထုတ်လုပ်၍ ပြည်ပသို့ ရာနှုန်းပြည့်တင်ပို့ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခြင်းကြောင့် အောက်ဖော်ပြပါ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း ယေဘုယျအားဖြင့် သုံးသပ်တွေ့ရှိရပါသည်-

(က) သစ်အခြေခံပရိဘောဂပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းတွင် ဓာတုဗေဒပစ္စည်းများအား သုံးစွဲရန်လိုအပ်ချက်ဖြစ်သဖြင့် အဆိုပါဓာတုဗေဒ ကုန်ကြမ်းပစ္စည်းများ သိုလှောင်ခြင်း၊ ကုန်ပစ္စည်း ထုတ်လုပ်ရာတွင် အသုံးပြုခြင်း၊ စွန့်ပစ်ခြင်းများကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ဖြစ်စေနိုင်ခြင်းတို့ကြောင့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများ ဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) စက်ရုံ၏ လေဝင်၊ လေထွက်ကောင်းမွန်မှု မရှိခြင်းနှင့် ဝန်ထမ်းများအား နှာခေါင်းစည်း၊ လက်အိတ်အစရှိသည့် အကာအကွယ်ပစ္စည်းများ ဝတ်ဆင်အသုံးပြုခြင်း မရှိပါက အသက်ရှူလမ်းကြောင်းဆိုင်ရာ ရောဂါများဖြစ်ပွားစေနိုင်ခြင်း၊

(ဂ) ထုတ်လုပ်ခြင်းလုပ်ငန်းအဆင့်ဆင့်မှ အမှုန်အမွှားများထွက်ရှိခြင်းတို့ကြောင့် စက်ရုံအတွင်း အလုပ်သမားများနှင့် စက်ရုံဧရိယာ အနီးပတ်ဝန်းကျင်ရှိ ပြည်သူများ၏ အသက်ရှူလမ်းကြောင်းဆိုင်ရာ ကျန်းမာရေးထိခိုက်မှု ဖြစ်ပေါ်စေနိုင်သည့်အပြင် ပတ်ဝန်းကျင်ရှိ လေထုကို ညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ခြင်း၊

(ဃ) ကုန်ကြမ်းနှင့် ကုန်ချောများမှာ မီးလောင်လွယ်သော ပစ္စည်းများဖြစ်သည့်အတွက် အကာအကွယ်ပစ္စည်းများအား စနစ်တကျ တပ်ဆင်ထားခြင်း မရှိပါက မီးဘေးအန္တရာယ် ဖြစ်စေနိုင်ခြင်း၊

(င) အဆိုပြုလုပ်ငန်းအား စနစ်တကျ လုပ်ကိုင်ဆောင်ရွက်နိုင်ရန် လုပ်ငန်းဆောင်ရွက်ခြင်း အဆင့်ဆင့်မှ ထွက်ရှိလာမည့်သစ်အမှုန်အမွှားများအတွက် လုပ်ငန်းခွင်သုံးအကာအကွယ် ပစ္စည်းများ (Personal Protective Equipment – PPE) အား အသုံးပြုခြင်း မရှိပါက လုပ်သားများ၏ အသက်ရှူလမ်းကြောင်းနှင့် ကျန်းမာရေးဆိုင်ရာ ပြဿနာများ ဖြစ်စေနိုင်ခြင်း၊

(စ) လုပ်ငန်းသုံးစက်ပစ္စည်းများတွင် အသုံးပြုမည့် လောင်စာ၊ စက်သုံးဆီများအား စနစ်တကျ သိုလှောင်ခြင်း မရှိပါက မီးဘေးအန္တရာယ်များဖြစ်စေနိုင်ခြင်း၊

(ဆ) လုပ်ငန်း လည်ပတ်ဆောင်ရွက်ခြင်းမှ ထွက်ရှိလာသည့် ဆူညံသံများကြောင့် အသံ ညစ်ညမ်းမှုများနှင့် လေထုညစ်ညမ်းမှုများ ဖြစ်ပေါ်နိုင်ပြီး စက်ရုံအတွင်းရှိ ဝန်ထမ်းများနှင့် စိမ့်ကိန်း စက်ရုံဧရိယာအနီးတဝိုက်ရှိ ပြည်သူများ၏ ကျန်းမာရေးအား ထိခိုက်မှု ဖြစ်စေနိုင်ခြင်း။

၃။ သို့ဖြစ်ပါ၍ Prodiso USA Company Limited ၏ ပြည်တွင်းမှရရှိသော Rubber Solid Wood ကို အသုံးပြုပြီး ပရိဘောဂပစ္စည်းများ ထုတ်လုပ်၍ ပြည်ပသို့ ရာနှုန်းပြည့်တင်ပို့ ရောင်းချခြင်းလုပ်ငန်း နှင့်ပတ်သက်၍ ဆောင်ရွက်ရန်လိုအပ်သည့် သဘာဝပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း အမျိုးအစားအား အောက်ပါအတိုင်း ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေရေးအတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment – EIA) အစီရင်ခံစာအား ရေးဆွဲပြုစု၍ ရန်ကုန်တိုင်းဒေသကြီး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနသို့ တင်ပြသွားရန်၊

(ခ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (EIA) အစီရင်ခံစာပြုစုခြင်းကို တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းကို ခန့်အပ်၍ ဆောင်ရွက်ရမည်ဖြစ်သဖြင့် ငှားရမ်း ဆောင်ရွက်နိုင်သည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းများနှင့်ပတ်သက်၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနတွင် ကြားကာလ အကြံပေးလုပ်ကိုင်သူ မှတ်ပုံတင်ခြင်း အထောက်အထား လက်မှတ်ရယူထားသော ပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းစာရင်းအား www.ecd.gov.mm/?q=third-party တွင် ဝင်ရောက်ကြည့်ရှု ခန့်အပ်ဆောင်ရွက်နိုင်ရန်၊

(ဂ) ငှားရမ်းဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့်ပတ်သက်၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ အတည်ပြုချက်ရယူရန် လိုအပ်သဖြင့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်း၏ ကျွမ်းကျင်မှုဆိုင်ရာ နယ်ပယ် အထောက်အထားများ ပူးတွဲလျက် ရန်ကုန်တိုင်းဒေသကြီး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနသို့တင်ပြ၍ အတည်ပြုချက် ရယူနိုင်ရေးဆောင်ရွက်သွားရန်၊

(ဃ) တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းအတွက် အတည်ပြုချက် ရရှိပြီးပါက လုပ်ထုံးလုပ်နည်းအပိုဒ် (၅၃) အရ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာကို သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ အတည်ပြုချက်ရယူနိုင်ရေးအတွက် နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာအား ရန်ကုန်တိုင်းဒေသကြီး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနသို့ တင်ပြသွားရန်၊

(င) အတည်ပြုထားသည့် နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာကို အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) နှင့်အညီ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (EIA) အစီရင်ခံစာကို ရန်ကုန်တိုင်းဒေသကြီး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာနသို့ တင်ပြသွားရန်၊

(စ) စီမံကိန်းနှင့်ပတ်သက်သည့် ပိုင်ရှင်ပြောင်းလဲခြင်း၊ အစီရင်ခံစာတွင် ဖော်ပြပါရှိသည့် ထုတ်လုပ်မှုပမာဏထက် ပိုမိုထုတ်လုပ်ခြင်း၊ လုပ်ငန်းလည်ပတ်မှုဒီဇိုင်းများ ပြောင်းလဲခြင်း၊ လုပ်ငန်းတည်နေရာ ပြောင်းလဲခြင်း၊ လုပ်ငန်းရပ်ဆိုင်းခြင်း (သို့မဟုတ်) ပိတ်သိမ်းခြင်းများ ပြုလုပ်မည်ဆိုပါက မပြုလုပ်မီ ရန်ကုန်တိုင်းဒေသကြီး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနသို့ တင်ပြသွားရန်၊

(ဆ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် စီမံကိန်းလုပ်ငန်း ဆောင်ရွက်မည့်နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကို ရယူဆောင်ရွက်ရန်။

ခင်မီတာတင်
၁၀၊၁၊၂၀၂၀
(ခင်သီတာတင်)
ညွှန်ကြားရေးမှူး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ရန်ကုန်တိုင်းဒေသကြီး

မိတ္တူကို

ရုံးလက်ခံ၊ မျှောစာတွဲ၊ အမှုတွဲချုပ်